# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ-၁၀၈၀/၂၀၁၅ ။ ၂၀၁၅ ခုနှစ်၊စက်တင်ဘာလ ၅ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂ (ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဒေါ်လင်ပေါခင် (ခ) ဒေါ်သန်းသန်းအေး(ခ)ဒေါ်သော်တာဇင်

(ခ) **အဘ အမည်** လင်ဂျင်ကင်း(ခ)ဦးအိကွမ်း

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၃/တကန(နိုင်) ဝ၆၇၉၈၁

(ဃ) **နေရပ်လိပ်စာ** အမှတ်(၅၈)၊ ကလောလမ်း၊ (၁၄)ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်မြို့

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့်အဖွဲ့အစည်း** Eva Steel Company Limited [အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်]

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်လုပ်ငန်းအမျိုးအစား** အလူမီနီယံ ဇင့်ရောင်စုံအမိုးသွပ်ပြားနှင့် စီနှင့်ဇက်မျှားတန်း ထုတ်လုပ်ခြင်းလုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** မြေကွက်အမှတ်(၂၂)၊ လှိုင်သာယာ စက်မှုဇုန်အပိုင်း(၃)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်သန်း ၃၂၀၀.၀၀ (US$ ၃.၀၀၁ သန်း အပါအဝင် ကျပ်သန်းပေါင်း သုံးထောင်နှစ်ရာ တိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်

ကန့်သတ်

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**

အမိန့်ကြော်ငြာစာအမှတ်၊ ၇၉ / ၂၀၁၅(မနသ)

၂၀၁၅ ခုနှစ် စက်တင်ဘာလ ၅ ရက်

၁။ မြန်မာကုမ္ပဏီဖြစ်သော Eva Steel Company Limited [အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်]သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာစက်မှုဇုန်အပိုင်း(၃)၊ မြေကွက်အမှတ်(၂၂)၊ မြေဧရိယာ၂.၀၁၁ဧကေ (၈၁၃၈.၂၃၅စတုရန်းမီတာ)အား ငှားရမ်း၍ အလူဇင့်ရောင်စုံအမိုးသွပ်ပြားနှင့် စီနှင့်ဇက်မျှားတန်း ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြချက်အား (၂၁-၈-၂၀၁၅) နေ့တွင် ကျင်းပသော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏(၁၅/၂၀၁၅) အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ အခန်း(၇)၊ ပုဒ်မ၁၂(ခ)အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Eva Steel Company Limited [အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်]အား အလူဇင့်ရောင်စုံ အမိုးသွပ်ပြားနှင့် စီနှင့်ဇက်မျှားတန်း ထုတ်လုပ်ခြင်းလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့်အမှတ်၊မနသ-၁၀၈၀/၂၀၁၅ ကိုထုတ်ပေးလိုက်သည်။

၂။ Eva Steel Company Limited [အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်] အနေဖြင့် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၁၁)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့်နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ထုတ်လုပ်မှု လုပ်ငန်း စီးပွားဖြစ် စတင်သော နှစ်အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ) အရ လုပ်ငန်းမှ ရရှိသောအမြတ်ငွေကို သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန်ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ ၂၀(ဃ) အရ လုပ်ငန်းက ထုတ်လုပ်သည့်ပစ္စည်းကို ပြည်ပသို့ တင်ပို့ရောင်းချလျှင် ထိုသို့တင်ပို့ရောင်းချ၍ရရှိသော အမြတ်ငွေပေါ်တွင် ၅၀ ရာခိုင်နှုန်းအထိ ဝင်ငွေခွန် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် (၅)နှစ်

ကန့်သတ်

ခံစားပြီးနောက် လုပ်ငန်း၏ အမှန်တကယ်အကောင်အထည်ဖော်နိုင်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန်ကင်းလွတ်ခွင့်ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ် ပေါ်ပေါက်သည့် အရှုံးငွေကိုယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှုအခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဆ)အရ လုပ်ငန်းစတင်တည်ဆောက်မှုကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာအစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြား ပြည်တွင်းအခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ၂၀(ဇ)အရ ဝင်ငွေခွန်စည်းကြပ်ရန်အလို့ငှာ ယာဉ်ယန္တရား၊ စက်ပစ္စည်းကိရိယာ၊ အဆောက်အဦ သို့မဟုတ် လုပ်ငန်းသုံးအခြားမတည်ပစ္စည်းများ အပေါ်တွင် နိုင်ငံတော်ကသတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုးလျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုးလျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့် စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဆ) ဥပဒေပုဒ်မ၂၀(ဈ)အရ လုပ်ငန်းတည်ဆောက်မှု ပြီးစီး၍ ပထမသုံးနှစ်အတွက်ကုန်ထုတ်လုပ်ရန် တင်သွင်းသည့် ကုန်ကြမ်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြား ပြည်တွင်း အခွန်အကောက်များ ဖြစ်စေ၊ နှစ်မျိုးလုံးကိုဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဇ) ဥပဒေပုဒ်မ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှုပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့် လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်းကာလအတွင်း အမှန်တကယ် အသုံးပြုရန် လိုအပ်၍ ပြည်ပမှတင်သွင်းသော ယာဉ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင်တန်ဆာပလာများ၊ စက်ကိရိယာအစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင် အကောက်ခွန်နှင့် အခြားပြည်တွင်း အခွန်အကောက်များ ကင်းလွတ်ခွင့်ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ၂၀(ဆ)အရ ပြည်ပမှ တင်သွင်းသည့် ယာဉ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး ချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ

အသိအမှတ်ပြုထားသည့် စစ်ဆေးရေးကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Eva Steel Company Limited [အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်]သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် မူလ အဆိုပြုလွှာ၌ ဖော်ပြထားသည့် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံးရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Eva Steel Company Limited [အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်]သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြားပြုစုထားရှိရမည်။

၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ ကနဦး (၁၅)နှစ်နှင့် သက်တမ်းတိုးမြှင့်မည့်ကာလမှာ တစ်ကြိမ်လျှင်(၅)နှစ်စီဖြင့် (၂)ကြိမ်ဖြစ်ပါသည်။ ထိုသို့ စာချုပ်သက်တမ်းကာလတိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက်ရရှိပြီးမှသာ အတည်ဖြစ်သည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။

၈။ Eva Steel Company Limited [အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်]သည် အဆိုပြုလုပ်ငန်း ကို ဆောင်ရွက်နိုင်ရန်အတွက် အဆောက်အဦ အငှားချထားသူ ဒေါ်သော်တာဇင်နှင့် အငှားချထားခြင်းခံရသူ Eva Steel Company Limited [အီဗွာစတီး(လ်) ကုမ္ပဏီ လီမိတက်]တို့ ချုပ်ဆိုမည့် အဆောက်အဦငှားရမ်းခြင်း သဘောတူစာချုပ်ကို လက်မှတ် ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များအား ဆောင်ပြီးသည့်အခါ ယင်းသဘောတူစာချုပ်မိတ္တူ(၅)စောင်ကို ဤကော်မရှင်သို့ မပျက်မကွက်ပေးပို့ တင်ပြရမည်။

၉။ Eva Steel Company Limited [အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်]သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးတို့အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Environmental Examination-IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ပြုလုပ်ဆောင်ရွက်ပြီး ယင်းဆောင်ရွက်ပြီးစီးမှု အခြေအနေကို ကော်မရှင်နှင့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနတို့သို့ ပေးပို့အစီရင်ခံရမည်။

၁၀။ Eva Steel Company Limited [အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်]သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများခန့်ထားရာတွင် အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေး ဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်းဆောင်ရွက်

ရမည်။ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေးပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင်တင်ပြထားသည့်အတိုင်း စီစဥ်ဆောင်ရွက်ရမည်။

၁၁။ Eva Steel Company Limited [အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်]သည် ဤခွင့်ပြုမိန့်အရ ထုတ်လုပ်မှုလုပ်ငန်းဆောင်ရွက်ရာ၌ မီးဘေးအန္တရာယ် မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် မီးဘေးအန္တရာယ် ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး မီးသတ်ဦးစီးဌာန၏ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ ညွှန်ကြားချက်များနှင့် အမိန့်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ထို့ပြင် ရေသိုလှောင်ကန်၊ မီးသတ်ဆေးဘူးများကဲ့သို့ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှု ဆောင်ရွက်ချက်များကို ဆောင်ရွက်ရမည်ဖြစ်ပြီး မီးငြိမ်းသတ်ရေး လုပ်ငန်းသုံးပစ္စည်းများကို အသုံးပြုတတ်စေရန် သင်တန်းများပေးရမည်။

၁၂။ ထို့ပြင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှုများ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်းကာကွယ်ရေး အစီအမံများကို ဝန်ခံကတိပြုထားသည့်အတိုင်း စနစ်တကျထားရှိ ဆောင်ရွက်ရမည်ဖြစ်ပြီး နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေး မူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၁၃။ Eva Steel Company Limited [အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်]သည် ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာနတွင် ပုဂ္ဂလိကစက်မှုလုပ်ငန်း မှတ်ပုံတင်ထားရှိ ဆောင်ရွက်ရမည်။

၁၄။ Eva Steel Company Limited [အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်]သည် ကနဦးလုပ်ငန်းဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့် ရရှိပြီး (သုံး)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့အပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် မပျက်မကွက် ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြု လုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ မပျက်မကွက် အစီရင်ခံရမည်။

၁၅။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် နေရပ်ဒေသ လိပ်စာ နှင့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏

ရှုံးခန်းလိပ်စာ နှင့် တယ်လီဖုန်းနံပါတ်)တို့ ပြောင်းလဲမှုရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၁၆။ Eva Steel Company Limited [အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်]သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲစည်းမျဉ်း စည်းကမ်း သတ်မှတ်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

၁၇။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ရမည် ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်းမရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာဌာနများမှ ထုတ်ပေးထားသော လုပ်ငန်းလိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှတင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့် လွှဲပြောင်းခြင်း၊ ရောင်းချခြင်းမပြုရ။ အကယ်၍ နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့်၊ လုပ်ငန်းလိုင်စင် တို့ကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာအစိုးရ ဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်းဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၃၂(င)အရ နောင်တွင်မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည်မဟုတ်သော နာမည်ပျက် စီးပွားရေး လုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်းခံရမည်။

၁၈။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့်နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ ရက-၃/မ-၁၁၁၂/၂၀၁၅(၅၁၈.၈)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၅ ရက်
**ဖြန့်ဝေခြင်း**

သမ္မတရုံး

ဒုတိယသမ္မတ(၁)ရုံး

ဒုတိယသမ္မတ(၂)ရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့် သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှု ကြီးကြပ်ရေးနှင့် ပြည်သူ့အင်အား ဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့် ကူးသန်းရောင်းဝယ်ရေး ဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊ အလုပ်အကိုင်နှင့် လူမှုဖူလုံရေးဝန်ကြီးဌာန

မြန်မာနိုင်ငံတော် ဗဟိုဘဏ်

ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံး

ညွှန်ကြားရေးမှူးချုပ်၊ မီးသတ်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေး ညွှန်ကြားမှု ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ လျှပ်စစ်ဓါတ်အား လုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေး ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန် ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များ ဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန

ဥက္ကဋ္ဌ၊ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်းချုပ်

အုပ်ချုပ်မှုဒါရိုက်တာ၊ Eva Steel Company Limited (အီဗာစတီး(လ်) ကုမ္ပဏီလီမိတက်]

[illegible]

ကုမ္ပဏီအမည်။ အီဗွာစတီး(လ်)ကုမ္ပဏီလီမိတက်

လုပ်ငန်း ။ အလူမီနီယံနှင့်သံမဏိ (စာမျက်နှာပါ) ...

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်လက်ခံရရှိခြင်း | ၉-၆-၂၀၁၅ | | |
| ၂ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၆-၆-၂၀၁၅ | ၁၃-၇-၂၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန | ၁၆-၆-၂၀၁၅ | ၄-၈-၂၀၁၅ | |
| | (ဂ)စက်မှုဝန်ကြီးဌာန | ၁၆-၆-၂၀၁၅ | ၁-၇-၂၀၁၅ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄၄/၂၀၁၄) အစည်းအဝေး သို့တင်ပြခြင်း | ၁၀-၁၁-၂၀၁၄ | | |
| ၄ | အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ဆုံးဖြတ်ချက်နှင့်အညီ ပြင်ဆင်တင်ပြရန် ကုမ္ပဏီသို့ အကြောင်းကြားခြင်း | ၂၀-၁၁-၂၀၁၄ | | |
| ၅ | ကုမ္ပဏီမှ ပြန်လည်ပြင်ဆင်ပြီး အဆိုပြုလွှာ (၁၀)စုံ ပေးပို့ခြင်း | ၁၁-၈-၂၀၁၅ | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **(၆၂)ရက်** | | |

မှတ်ချက်။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ (၄၄/၂၀၁၄) အစည်းအဝေး ဆုံးဖြတ်ချက်အရ လုပ်ငန်းဆောင်ရွက်ခြင်းမရှိသည့်မနသ-၁၁၅/၉၈ နိုင်ငံတကာအဆင့်မီပလတ်စတစ်ပိုက်များ ထုတ်လုပ်ခြင်းလုပ်ငန်းနှင့် မနသ-၁၁၆/၉၈ နိုင်ငံတကာအဆင့်မီ သုတ်ဆေး(Paint)ထုတ်လုပ်ခြင်းလုပ်ငန်းများအား ပြန်လည်အပ်နှံပြီးမှ ယခုလုပ်ငန်း၏ အဆိုပြုလွှာအား (၉-၆-၂၀၁၅)တွင် ပြန်လည်တင်ပြခြင်း ဖြစ်ပါသည်။

အကြောင်းအရာ။ **အီဗွာ စတီး(လ်) ကုမ္ပဏီလီမိတက်မှ အလူဇင့်ရောင်စုံ အမိုးသွပ်ပြားနှင့် စီနှင့်ဇက်မျှားတန်း ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စနှင့် စပ်လျဥ်းသည့် အဓိကအချက်အလက်များ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - အီဗွာ စတီး(လ်) ကုမ္ပဏီလီမိတက် |
| | လုပ်ငန်းအဆိုပြုသူအမည် | - ဒေါ်လင်ပေါခင် (ခ) ဒေါ်သန်းသန်းအေး(ခ)ဒေါ်သော်တာဇင် (အဘ-လင်ဂျင်ကင်း(ခ)ဦးအီကွမ်း) |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဍာန် | - လီမိတက်ကုမ္ပဏီ (Private Company)ဖြစ်ပါသည်။ |
| ၃။ | အဆိုပြုလုပ်ငန်းအမျိုးအစား | - အလူဇင့်ရောင်စုံအမိုးသွပ်ပြားနှင့်စီနှင့်ဇက်မျှားတန်းထုတ်လုပ်ခြင်းလုပ်ငန်း |
| ၄။ | လုပ်ငန်းတည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်အပိုင်း(၃)၊ မြေကွက်အမှတ် (၂၂) |
| ၅။ | မြေပိုင်ရှင် | - ဒေါ်လင်ပေါခင်(ခ)ဒေါ်သန်းသန်းအေး (ခ)ဒေါ်သော်တာဇင် |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၂.၀၁၁ ဧက (၈,၁၃၈.၂၃၅ စတုရန်းမီတာ) |
| | အဆောက်အဦအကျယ်အဝန်း | - ၁၆၀ ပေ x ၂၆၀ပေ (တစ်ထပ်အဆောက်အဦ) |
| | မြေသက်တမ်း | - နှစ် ၆၀ ဂရန်တင်ပြထားပါသည်။ |
| | နှစ်စဥ်မြေနှင့်အဆောက်အဦငှားရမ်းခ | - ကျပ် ၇၈,၀၀၀,၀၀၀ |
| ၆။ | ရင်းနှီးမြှုပ်နှံမှုသက်တမ်း | - နှစ် ၃၀ |
| ၇။ | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **ကျပ် ၃၂၀၀.၀၀၀ သန်း (US$ ၃.၀၀၁ သန်း အပါအဝင်)** |
| | - ငွေသား | - ကျပ် ၁၇၉.၄၅၀ သန်း |
| | - စက်ပစ္စည်းကိရိယာများ တန်ဖိုးပမာဏ (ပြည်ပ) | - ကျပ် ၁၄၄၄.၀၀၀ သန်း (US$ ၁.၄၄၄ သန်းနှင့်ညီမျှသော) |
| | - ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ(ပြည်တွင်း) | - ကျပ် ၁၈.၇၀၀ သန်း |
| | - ကုန်ကြမ်းပစ္စည်းများစာရင်း(ပြည်ပ) | - ကျပ် ၁၅၅၇.၈၅၀ သန်း(US$ ၁.၅၅၇သန်းနှင့်ညီမျှသော) |
| ၈။ | တည်ဆောက်ရေးကာလ | - ၁ နှစ် ၆ လ |
| ၉။ | ထုတ်လုပ်မှုနှင့် ပြည်တွင်းရောင်းချမှု ခန့်မှန်းထား (၆နှစ်မြောက်) | |

| အမျိုးအမည် | ထုတ်လုပ်မှု (MT) | ပြည်တွင်းရောင်းဈေးနှုန်း (MT/ kyats) |
|---|---|---|
| Enduro Frame& Truss | ၃၉၈၅ | ၁၁၁၀ |
| Klip Lok Roofin g Sheet | ၆၁၈၅ | ၁၂၁၀ |
| Seam Lock Roofin g Sheet | ၆၂၂၀ | ၈၁၀ |
| 4-An gle Roofin g Sheet | ၇၈၇၅ | ၁၀၇၀ |
| Cable Tray | ၂၈၃၀ | ၉၆၀ |
| C&Z Purlin | ၃၅၇၅ | ၁၁၃၅ |

| | | |
|---|---|---|
| ၁၀။ | ကုမ္ပဏီ၏ဝင်ငွေ(၆ နှစ်မြောက်)<br>အသုံးစရိတ်(၆ နှစ်မြောက်)<br>အသားတင်အမြတ်(၆ နှစ်မြောက်) | - ကျပ် ၃၂၁၄၆.၂၀၀ သန်း<br>- ကျပ် ၃၁၁၉၂.၀၇၃ သန်း<br>- ကျပ် ၉၅၄.၁၂၇ သန်း |
| ၁၁။ | နိုင်ငံတော်မှ ရရှိမည့်အကျိုးအမြတ်<br>(၆ နှစ်မြောက်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန် | <br><br>- ကျပ် ၅၇၉.၈၁၅ သန်း<br>- ကျပ် ၁၅၃၀.၇၇၀ သန်း<br>(အမေရိကန်တစ်ဒေါ်လာလျှင် ၁၀၀၀ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်) |
| ၁၂။ | အရင်းကြေကာလ | - ၅ နှစ် ၁လ |
| ၁၃။ | အရင်းအနှီးအပေါ် အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | - ၁၈.၁၂% |
| ၁၄။ | ရောင်းချပုံ နည်းစနစ် | - ပြည်တွင်း ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ |
| ၁၅။ | ဝန်ထမ်းအင်အားစုစုပေါင်း(ပထမနှစ်) | - ၉၃ ဦး |
| | ပြည်တွင်း | - ၉၁ ဦး (ပြည်တွင်း အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၁၀၀,၀၀၀နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာ ကျပ် ၃၅၀,၀၀၀) |
| | ပြည်ပ | - ၂ ဦး (ပြည်ပမှပညာရှင် ခေါ်ယူခြင်းအတွက် ကုမ္ပဏီမှ ကုန်ကျစရိတ် ကျခံပေးရန် မလိုဟု တင်ပြထားပါသည်) |
| ၁၆။ | လျှပ်စစ်ဓာတ်အားသုံးစွဲမှု | - ၁၅၀၀၀၀ kW |
| ၁၇။ | အခြား | - EVA STEEL CO., LTD.၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ်၊ ဒါရိုက်တာစာရင်း၊ နိုင်ငံသားစိစစ်ရေးကတ်မိတ္တူများကို တင်ပြထားပါသည်။<br>- ကုမ္ပဏီ၏ အမြတ်ငွေထဲမှ CSR အတွက် ၂% သုံးစွဲမည် ဖြစ်ကြောင်း ဖော်ပြထားပါသည်။<br>- ငွေကြေး အထောက်အထားအဖြစ် CB BANK, CO-OPERATIVE BANK LTD. တွင် အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက် အမည်ဖြင့် ၁၆-၆-၂၀၁၅ နေ့တွင် အမေရိကန်ဒေါ်လာ ၁၀၀,၁၀၀.၀၀ နှင့် ကျပ် ၁,၃၀၄,၉၄၂,၈၃၀.၅၅ ရှိကြောင်းတင်ပြထားပါသည်။<br>- ဝန်ထမ်းသက်သာချောင်ချိရေးနှင့်လုပ်ငန်းခွင်သာယာရေး၊ ဘေးအန္တရာယ် ကင်းရှင်းရေးအတွက် အစီအမံများထားရှိပြီး အသိပညာပေးသင်တန်းများဖြင့် သင်တန်းပေးခြင်း၊ သီးခြားထမင်းစားဆောင်များထားရှိခြင်း၊ သန့်ရှင်းသော ရေချိုးခန်းနှင့်သန့်စင်ခန်းများအလုံအလောက်ထားရှိပေးခြင်း၊ သောက်ရေသန့်စက်များ ထားရှိပေးခြင်း၊ နားနေဆောင်များတည်ဆောက်ပေးခြင်း၊ ကျန်းမာရေးအတွက် အလုပ်သမား |

| | | |
|---|---|---|
| | | ဆေးရုံများသို့ သွားရောက်ကုသမှုခံယူ နိုင်ရန် စီမံဆောင်ရွက်ပေးခြင်း၊ အတိုးမဲ့ ယာယီချေးငွေ ထုတ်ပေးခြင်းနှင့် သာရေး၊ နာရေးများအတွက် ရန်ပုံငွေများထားရှိပေးခြင်းနှင့် အရေးပေါ်ထိခိုက်မှုရှိလာပါက ကုသမှုပေးရန်နိုင် သူနာပြု (၂)ဦး ထားရှိမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန်အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)နှင့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ရေးဆွဲရန် ဆောင်ရွက်နေကြောင်းတင်ပြထားပါသည်။ |
| ၁၈။ | မီးဘေးကာကွယ်ရေးအစီအစဉ် | - မီးဘေး ကာကွယ်ရေး စီမံချက်အနေဖြင့် မီးသတ်ဆေးဗူးများ အဆင်သင့်ထားရှိခြင်း၊ အရေးပေါ် အချက်ပေးစနစ် ကိရိယာများ တပ်ဆင်အသုံးပြုခြင်း၊ ရေဂါလံ(၂၅၀၀) ဆန့် ရေလှောင်ကန်ကို တည်ဆောက်ထားရှိခြင်း၊ ဝန်ထမ်းများကို မီးသတ်သင်တန်းများ တက်ရောက်ရန် စီစဉ်ထားခြင်း၊ စက်ရုံအနီးနှင့်ပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားပြီး အဆောက်အဦနှင့် စက်များအတွက် မီးအာမခံ များထားရှိရန် စီမံထားကြောင်းတင်ပြထားပါသည်။ |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက် |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | အလူဇင့် ရောင်စုံ အမိုးသွပ်ပြားနှင့် စီနင့်ဇက် မျှားတန်း ထုတ်လုပ်ခြင်း လုပ်ငန်း |
| တည်နေရာ | - | မြေကွက်အမှတ်(၂၂)၊ မြေတိုင်းရပ်ကွက်အမှတ်အပိုင်း(၃)၊လှိုင်သာယာ စက်မှုဇုန်၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | ကျပ် ၃၂၀၀.၀၀၀ သန်း (US$ ၃.၀၀၁ သန်း အပါအဝင်) |
| ရောင်းချမည့်စနစ် | - | ၁၀၀% ပြည်တွင်းရောင်း |
| လုပ်ငန်းသက်တမ်း | - | နှစ် ၃၀ |
| အရင်းကြေကာလ | - | ၅နှစ် ၁လ |
| IRR | - | ၁၈.၁၂ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit (ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၃.၀၀ (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၇၂.၂ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၁၀၇၁၅.၃၉၇ |
| ၅ | ဝင်ငွေခွန် | ၂၈၉၉.၀၉၅ | ၄၀၅၈.၇၀၅ |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | ၃၁၈.၂၆ |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | - | တစ်နှစ်ဝင်ငွေကျပ်သိန်း နှစ်ဆယ်ထက်ကျော်ပါက အခွန်ပေးရမည့်ဝန်ထမ်း(၅)ဦး |
| ၈ | CSR (၂%) | - | ၅၆၅.၀၇၈ |
| ၉ | မြေငှားရမ်းခရငွေ | | ၉၃၆.၀၀ |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ဝန်ထမ်း (၉၁) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်ပါသည်။ |
| | **စုစုပေါင်း** | **ကျပ် ၂၉၇၄.၂၉၅သန်း** | **ကျပ် ၁၆၅၉၄.၆၀ သန်း** |
| | **Cost : Benefit** | **၁ : ၆** | |

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်**
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ရက-၃/မ-၁၁၁၂/၂၀၁၅(၁၁၀၈ )
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ဩဂုတ် လ ၁၈ ရက်

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့တင်ပြသည့်**
**အမှာစာ**

အကြောင်းအရာ။ **အီဗွာစတီး(လ်)ကုမ္ပဏီလီမိတက်[၁]မှ အလူဇင့်ရောင်စုံ အမိုးသွပ်ပြားနှင့် စီနှင့်ဇက် များတန်းထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေ နှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်အပိုင်း(၃)၊ မြေကွက် အမှတ် (၂၂) မြေဧရိယာ ၂.၀၁၁ ဧက (၈,၁၃၈.၂၃၅ စတုရန်းမီတာ)တွင် အလူဇင့်ရောင်စုံအမိုးသွပ်ပြားနှင့် စီနှင့်ဇက်များတန်း ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် ရင်းနှီးမြှုပ်နှံသူ ဒေါ်လင်ပေါခင် (ခ)ဒေါ်သန်းသန်းအေး (ခ)ဒေါ်သော်တာဇင်(အဘ-လင်ဂျင်ကင်း (ခ)ဦးအီကွမ်း)မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု သက်တမ်းမှာ (၃၀)နှစ် ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်ရန် အတွက် တည်ဆောက်ရေးကာလမှာ ၁နှစ် ၆လ ဖြစ်ပါသည်။ လုပ်ငန်းဆောင်ရွက်မည့် အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်နှင့် ဒေါ်သော်တာဇင် တို့နှစ်ဦးသဘောတူ ချုပ်ဆိုထားသော မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း) တင်ပြထားပါသည်။

၃။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ အမေရိကန်ဒေါ်လာ (၃.၀၀၁)သန်း အပါအဝင် စုစုပေါင်း ကျပ်(၃၂၀၀.၀၀၀)သန်းဖြစ်ပြီး အဆိုပြုလုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု အခြေအနေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | **ထည့်ဝင်သည့်အမျိုးအစား** | **ကျပ်(သန်း)** | |
|---|---|---|---|
| (က) | ငွေသား | ၁၇၉.၄၅၀ | |
| (ခ) | စက်ပစ္စည်းကိရိယာများတန်ဖိုးပမာဏ (ပြည်ပ) | ၁၄၄၄.၀၀၀ | (US$ ၁.၄၄၄ သန်းနှင့်ညီမျှသော) |
| (ဂ) | ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုးပမာဏ (ပြည်တွင်း) | ၁၈.၇၀၀ | |
| (ဃ) | ကုန်ကြမ်းပစ္စည်းများစာရင်း(ပြည်ပ) | ၁၅၅၇.၈၅၀ | (US$ ၁.၅၅၇သန်းနှင့်ညီမျှသော) |
| | **စုစုပေါင်းရင်းနှီးမြှုပ်နှံမှု** | **၃၂၀၀.၀၀၀** | **(US$ ၃.၀၀၁ သန်း အပါအဝင်)** |

၄။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်း ဝန်ထမ်း(၉၁)ဦးနှင့် ပြည်ပမှ နည်းပညာရှင် (၂)ဦး စုစုပေါင်း(၉၃)ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းမှ အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ

၁) EVA Steel Co., Ltd.

ကျပ် ၁၀၀,၀၀၀ နှင့် အမြင့်ဆုံး ဝန်ထမ်းတစ်ဦး၏ လစာမှာ ကျပ် ၃၅၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပမှ နည်းပညာရှင် ခေါ်ယူခြင်းအတွက် ကုမ္ပဏီမှ ကုန်ကျစရိတ် ကျခံပေးရန် မလိုဟု တင်ပြထားပါသည်။

၅။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိသော ကုန်ချောများကို ပြည်တွင်းတွင်၁၀၀% ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ် (၆-နှစ်မြောက်)တွင် ထုတ်လုပ်မှုနှင့် ပြည်တွင်းရောင်းချမှုနှုန်းထားများမှာ အောက်ပါအတိုင်းဖြစ်ပါသည် -

| အမျိုးအမည် | ထုတ်လုပ်မှု (MT) | ပြည်တွင်းရောင်းဈေးနှုန်း (MT/ kyats) |
|---|---|---|
| Enduro Frame& Truss | ၃၉၈၅ | ၁၁၁၀ |
| Klip Lok Roofing Sheet | ၆၁၈၅ | ၁၂၁၀ |
| Seam Lock Roofing Sheet | ၆၂၂၀ | ၈၁၀ |
| 4-Angle Roofing Sheet | ၇၈၇၅ | ၁၀၇၀ |
| Cable Tray | ၂၈၃၀ | ၉၆၀ |
| C&Z Purlin | ၃၅၇၅ | ၁၁၃၅ |

၆။ လုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် ကုမ္ပဏီမှ ပုံမှန်နှစ် (၆နှစ်မြောက်)တွင် ရရှိမည့်ဝင်ငွေနှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | | ကျပ်(သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၃၂၁၄၆.၂၀၀ |
| (ခ) | အသုံးစရိတ် | ၃၁၁၉၂.၀၇၃ |
| (ဂ) | အသားတင် အမြတ် | ၉၅၄.၁၂၇ |

၇။ နိုင်ငံတော်မှ ပုံမှန်နှစ် (၆ နှစ်မြောက်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် ကျပ်၅၇၉.၈၁၅သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် ကျပ်၁၅၃၀.၇၇၁သန်း ရရှိမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ အရင်းကြေကာလမှာ ၅ နှစ် ၁ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR)မှာ ၁၈.၁၂% ဖြစ်ပါသည်။ အမေရိကန်တစ်ဒေါ်လာလျှင် ၁၀၀၀ ကျပ်နှုန်းဖြင့် တွက်ချက်ထားပါသည်။

၈။ အဆိုပြုချက်နှင့်စပ်လျဉ်း၍ ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန၊ စက်မှုဝန်ကြီးဌာနတို့သို့ သဘောထား တောင်းခံခဲ့ရာ အောက်ပါအတိုင်း သဘောထားပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်မှုမရှိခြင်း၊ ပြည်တွင်းလုပ်သားအင်အား(၉၁)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေ

သဖြင့်(၉-၇-၂၀၁၅)ရက်နေ့ ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေး အမှတ်စဉ် (၃၂/၂၀၁၅) ဆုံးဖြတ်ချက် အပိုဒ်(၉၆)အရ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအားခွင့်ပြုသင့်ပါကြောင်းသဘောထားပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ(က)**

(ခ) **ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာန**မှ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန်ကိစ္စနှင့်ပတ်သက်၍ အောက်ဖော်ပြပါအချက်များအတိုင်းလိုက်နာ ဆောင်ရွက်ရန်လိုအပ်မည်ဖြစ်ပါကြောင်းသဘောထားမှတ်ချက် ပြန်ကြားထားပါသည်-

(၁) အဆိုပြုလုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေးနှင့် ကျန်းမာရေးထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက် အလက်များပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်း၊ အဆိုပြုလွှာ တွင်ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အတွက် အမြတ်ငွေ၏(၂%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များ အတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွားရန်။

(၂) စီမံကိန်းလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်ပျက်စီးမှု များမရှိစေရေး သို့မဟုတ် အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင် ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ကိုဆောင်ရွက်ပြီး IEE အစီရင်ခံစာကိုတင်ပြရန်။

(၃) အဆိုပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ကိုထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲ တင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်သွား ရန်။

(၄) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး လုပ်နည်းများ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင် အထည်ဖော် ဆောင်ရွက်သွားရန်။ **ကုမ္ပဏီမှ အထက်ပါ သဘောထား မှတ်ချက် နှင့်အညီ ဆောင်ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။** **နောက်ဆက်တွဲ (ခ)**

(ဂ) **စက်မှုဝန်ကြီးဌာန**မှ လျှပ်စစ်သွယ်တန်း အသုံးပြုမှုများကို လျှပ်စစ်ဥပဒေ နှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ကြောင်း၊ မီးဘေး အန္တရာယ် ကြိုတင် ကာကွယ်ရေး အစီအမံများနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန်

လိုအပ်ပါကြောင်း၊ ပုဂ္ဂလိက စက်မှုလုပ်ငန်းဥပဒေ နှင့်အညီ စက်မှုမှတ်ပုံတင် ဆောင်ရွက်ရန် လိုအပ်ကြောင်း၊ အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများ၊ စက်ပစ္စည်း များနှင့် ထုတ်လုပ်မှုနည်းစဥ်များအရ ကုန်ချော(၆)မျိုး ထုတ်လုပ်ခြင်းမှာ ဆီလျော်မှုရှိ ကြောင်းပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ(ဂ)**

၉။ ငွေကြေးအထောက်အထားအဖြစ် CB BANK, CO-OPERATIVE BANK LTD. တွင် အီဗွာစတီး(လ်)ကုမ္ပဏီလီမိတက်အမည်ဖြင့် ၁၆-၆-၂၀၁၅နေ့တွင် ငွေလက်ကျန် အမေရိကန်ဒေါ်လာ ၁၀၀,၁၀၀.၀၀ နှင့် ကျပ် ၁,၃၀၄,၉၄၂,၈၃၀.၅၅ ရှိကြောင်း တင်ပြထားပါသည်။

၁၀။ ယင်းလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်ပြီး နိုင်ငံခြားမှ မည်သူမျှ ပိုင်ဆိုင်မှု မရှိကြောင်း၊ လုပ်ငန်းအသစ်ဖြစ်ကြောင်း၊ နိုင်ငံတော်အစိုးရမှ မြေယာနှင့်ပတ်သက်၍ သတ်မှတ် ပြဋ္ဌာန်းထားသည့် စည်းကမ်းချက်များ၊ ညွှန်ကြားချက်များနှင့်အညီ လိုက်နာဆောင်ရွက်မည် ဖြစ်ပါ ကြောင်း၊ ပတ်ဝန်းကျင်လေထု၊ ရေထုနှင့်မြေထုတို့ ညစ်ညမ်းမှုမဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင်ကာကွယ်မှုများ ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်း စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာနတွင် မှတ်ပုံတင်ထားရှိမည် ဖြစ်ပါကြောင်း၊ တစ်နှစ်လျှင်ဝင်ငွေ ကျပ် ၂၀သိန်းအထက်ရရှိသော ဝန်ထမ်းများအတွက်နိုင်ငံတော်သို့ ပေးဆောင်ရမည့်ဝင်ငွေခွန်များကိုလစဥ်ပေးဆောင်သွားမည်ဖြစ်ကြောင်းဝန်ခံကတိပြုထားပါသည်။

၁၁။ ဝန်ထမ်း သက်သာ ချောင်ချိရေးနှင့် လုပ်ငန်းခွင် သာယာရေး၊ ဘေးအန္တရာယ် ကင်းရှင်း ရေးအတွက် အစီအမံများထားရှိပြီး အသိပညာပေးသင်တန်းများဖြင့် သင်တန်းပေးခြင်း၊ သီးခြား ထမင်းစားဆောင်များထားရှိခြင်း၊ သန့်ရှင်းသောရေချိုးခန်းနှင့် သန့်စင်ခန်းများအလုံအလောက် ထားရှိပေးခြင်း၊ သောက်ရေသန့်စက်များ ထားရှိပေးခြင်း၊ နားနေဆောင်များ တည်ဆောက်ပေးခြင်း၊ ကျန်းမာရေးအတွက် အလုပ်သမားဆေးရုံများသို့ သွားရောက်ကုသမှုခံယူ နိုင်ရန် စီမံဆောင်ရွက် ပေးခြင်း၊ အတိုးမဲ့ယာယီချေးငွေ ထုတ်ပေးခြင်းနှင့် သာရေး၊ နာရေးများအတွက် ရန်ပုံငွေများ ထားရှိပေးခြင်းနှင့် အရေးပေါ်ထိခိုက်မှုရှိလာပါက ကုသမှုပေးရန်နိုင် သူနာပြု (၂)ဦး ထားရှိမည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၂။ လုပ်ငန်းဆောင်ရွက်ရာတွင် လျှပ်စစ်ဓါတ်အားကို မဟာဓါတ်အားလိုင်းမှ ရယူသုံးစွဲမည်ဖြစ် ပြီးမဟာဓါတ်အားလိုင်းမှ လျှပ်စစ်ဓါတ်အားမရရှိသည့်အချိန်တွင် ကိုယ်ပိုင်မီးစက်များဖြင့် ကုန်ထုတ် လုပ်မှုစဥ်ဆက်မပြတ်စေရေးအတွက် ဆောင်ရွက်သွားမည် ဖြစ်ပါကြောင်း ကုမ္ပဏီမှ တင်ပြထားပါ သည်။

၁၃။ အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၂၀၁၄ ခုနှစ် နိုဝင်ဘာလ ၁၀ ရက်နေ့တွင် ကျင်းပသော (၄၄/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၄။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀(က၊ ဂ၊ ဃ၊ စ၊ ဆ၊ ဇ၊ ဈ၊ ည) အရ အခွန်အကောက် ကင်းလွတ်ခွင့် (သို့မဟုတ်) သက်သာခွင့်များကို တင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည်ဖြစ်ပါမည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ လှိုင်သာယာ စက်မှုဇုန်၊ မြေတိုင်းရပ်ကွက်အမှတ်အပိုင်း(၃)၊ မြေကွက်အမှတ် (၂၂) မြေဧရိယာ ၂.၀၁၁ ဧက(၈,၁၃၈.၂၃၅ စတုရန်းမီတာ)တွင် အလူဇင့်ရောင်စုံ အမိုးသွပ်ပြားနှင့် စီနှင့်ဇက်များတန်း ထုတ်လုပ်ခြင်းလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၃ ) / လျှပ်စစ်

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင် လ ၁၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆. ၆. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃/ မ- ၁၁၁၂/ ၂၀၁၅ (၇၆၆)

၁။ အီဗွာ စတီး(လ်) ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၃)၊ ဒီပဲရင်းဝန်ထောက် ဦးမြလမ်း၊ မြေကွက်အမှတ်(၂၂)၊ မြေဧရိယာ ၂. ၀၁၁ ဧက (၈,၁၃၈. ၂၃၅ စတုရန်းမီတာ)ပေါ်ရှိ မြေနှင့်အဆောက်အဦအား ငှားရမ်း၍ အလူဇင့်ရောင်စုံအမိုးသွပ်ပြားနှင့် စီနှင့်ဇက် များတန်းထုတ်လုပ်ခြင်း လုပ်ငန်းကို မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှု အပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့်ပတ်သက်၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၉၁)ဦး အလုပ်အကိုင်ရရှိမည် ဖြစ်သောကြောင့် မြို့နယ်ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုအတွက် အထောက်အကူဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၃)၊ ဒီပဲရင်းဝန်ထောက် ဦးမြလမ်း၊ မြေကွက်အမှတ်(၂၂)၊ မြေဧရိယာ ၂. ၀၁၁ ဧက (၈,၁၃၈. ၂၃၅ စတုရန်းမီတာ)အား တစ်လလျှင် ကျပ်(၆,၅၀၀,၀၀၀)နှုန်းဖြင့် တစ်နှစ်အတွက် ကျပ် (၇၈,၀၀၀,၀၀၀)နှုန်း၊ USD 0.75 $/ $m^2$/ year နှုန်းဖြင့် (၁နှစ်လျှင် USD - 65697 $ နှုန်းဖြင့်) (၂၅)နှစ်ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝ ပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

D/2015/Cabinet/.(5)

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၉. ၇. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၂/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၉၆)အရ အီဗွာ စတီး(လ်) ကုမ္ပဏီလီမိတက် ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးလျှပ်စစ်နှင့်စက်မှုလက်မှုဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
လှိုင်သာယာမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
အီဗွာ စတီး(လ်) ကုမ္ပဏီလီမိတက်
လက်ခံစာတွဲ
မျှောစာတွဲ

D/2015/Cabinet/,(6)

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

NPL 3536
6.8.15

စာအမှတ် ၃(၂)/၁၁(ဃ)(၆)/(၁၇၁၁ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဩဂုတ်လ ၄ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M-1433
7/8

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆-၆-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၃ / မ - ၁၁၁၂ / ၂၀၁၅ (၇၆၇)

၁။ အီဗွားစတီးလ် ကုမ္ပဏီလီမိတက်သည် ရန်ကုန်တိုင်းဒေသကြီး ၊ လှိုင်သာယာမြို့နယ် ၊ စက်မှုဇုန် (၃)၊ ဒီပဲရင်းဝန်ထောက်ဦးမြဲလမ်း ၊ မြေကွက်အမှတ် (၂၂) ၊ မြေဧရိယာ (၂.၀၁၁) ဧက ( ၈၁၃၈.၂၃၅ စတုရန်းမီတာ ) ပေါ်ရှိ မြေ နှင့် အဆောက်အဦအား ငှားရမ်း၍ အလူဇင့် ရောင်စုံ အမိုးသွပ်ပြား နှင့် စီ နှင့် ဇက် မြားတန်းထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာသဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ ယင်းအဆိုပြုလွှာတွင် တင်ပြထားသည့် စက်ရုံတည်ဆောက် ပြုပြင်ရေးလုပ်ငန်းများ နှင့် ပတ်သက်၍ စိစစ်ရာတွင် လုပ်ငန်းဆောင်ရွက်ခြင်းကြောင့် ဖုန်အမှုန်များ နှင့် စွန့်ပစ် ပစ္စည်းများ / စွန့်ပစ်ရေများထွက်ရှိနိုင်ခြင်း၊ စီမံကိန်းလုပ်ငန်းတွင် အဓိကအသုံးပြုမည့် သွပ်ပြားများကို ဖြတ်တောက်ရာမှ ထွက်ရှိလာမည့် ဆူညံသံများ ၊ ဖြတ်စ / ညှပ်စများ ၊ အမှုန်အမွှားများကြောင့် ပတ်ဝန်းကျင် လေထု ၊ မြေထုညစ်ညမ်းမှု နှင့် အသံဆူညံမှုဖြစ်ပေါ်နိုင်ခြင်းစသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ EVA STEEL Co.,Ltd. မှ အလူဇင့်ရောင်စုံအမိုးသွပ်ပြား နှင့် စီ နှင့် ဇက် မြားတန်းထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်မှုများ ရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု

အနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များအသုံးပြုခြင်း၊ အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု ( CSR ) အတွက် အမြတ်ငွေ၏ (၂%) အား အသုံးပြုခြင်းတို့ အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) စီမံကိန်းလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများမရှိစေရေး(သို့မဟုတ်)အနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ကိုဆောင်ရွက်ပြီး IEE အစီရင်ခံစာ တင်ပြရန်၊

(ဂ) အဆိုပါ လေ့လာဆန်းစစ်မှု ရလဒ်များကို အခြေခံ၍ လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ကိုထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းပညာများ၊ လုပ်ငန်းအစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် ( Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန် နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ၊နည်းဥပဒေ၊လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူတို့ နှင့် လူထုတွေ့ဆုံဆွေးနွေးပွဲများ ပြုလုပ်ပြီး ၎င်းတို့၏ဆန္ဒ နှင့် သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

*D:\DHHM\CD\(EVA STEEL Co.,Ltd).doc*

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁-စမ(၂) ၂၀၁၅-၂၀၁၆ (၁၀၃၉)

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဇူလိုင်လ ၁ ရက်

NPT-3652
3-7-15

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

M-1834
6-7-15

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၆.၆. ၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၃/ မ- ၁၁၁၂/ ၂၀၁၅ (၇၆၈)

၁။ အီဗွာစတီး(လ်)ကုမ္ပဏီလီမိတက်သည် နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ လှိုင်သာယာမြို့နယ်၊ စက်မှုဇုန်(၃)၊ ဒီပဲရင်းဝန်ထောက်ဦးမြဲလမ်း၊ မြေကွက်အမှတ်(၂၂)တွင် အလူဇင့်ရောင်စုံ အမိုးသွပ်ပြားနှင့် စီနှင့်ဇက်မျှားတန်း ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန် ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး အလူဇင့်ရောင်စုံအမိုးသွပ်ပြားနှင့် စီနှင့်ဇက်မျှားတန်း ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကြိုတင်ကာကွယ်ရေးအစီအမံများနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) အသုံးပြုမည့် ကုန်ကြမ်းပစ္စည်းများ၊ စက်ပစ္စည်းများနှင့် ထုတ်လုပ်မှုနည်းစဉ်များအရ ကုန်ချော(၆)မျိုး ထုတ်လုပ်ခြင်းမှာ ဆီလျော်မှု ရှိပါသည်။

၃။ သို့ပါ၍ အီဗွာစတီး(လ်)ကုမ္ပဏီလီမိတက်မှ အလူဇင့်ရောင်စုံ အမိုးသွပ်ပြားနှင့် စီနင့်ဇက်မျှားတန်းထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

အမှတ်(၁)အကြီးစားစက်မှုလုပ်ငန်း

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# EVA STEEL CO., LTD.

# အီဗွာစတီး(လ်) ကုမ္ပဏီလီမိတက်

၏

## အလူဇင့်ရောင်စုံ အမိုးသွပ်ပြားနှင့် စီနှင့်ဇက် မျှားတန်း ထုတ်လုပ်ခြင်းလုပ်ငန်း

## PRE-PAINTED ALU-ZINC ROOFING SHEET AND 'C' & 'Z' PURLIN FACTORY

## အဆိုပြုလွှာ

၂၀၁၅ ခုနှစ်၊ ဇွန်လ (၉) ရက်။

**EVA STEEL CO., LTD.**
NO. 22, DE PAE YIN WUN HTAUK U MYAE ROAD, HLAING THAR YAR INDUSTRY ZONE (3)
HLAING THAR YAR TOWNSHIP, YANGON, MYANMAR.
TEL: 01-685133, 685015, 685614, 685615 FAX: 01-685128 EMAIL: evasteelcompany@gmail.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။၂၀၁၅ ခုနှစ်၊ ဇွန်လ (၉) ရက်။

အကြောင်းအရာ။ ။ **<u>မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုလွှာတင်ပြခြင်း။</u>**

အထက်အကြောင်းအရာပါ ကိစ္စနှင့်ပတ်သက်၍ ကျွန်မတို့၏ **" EVA STEEL CO., LTD."** သည် ရန်ကုန်တိုင်းဒေသကြီး၊ စက်မှုဇုန်(၃)၊ လှိုင်သာယာမြို့နယ်၊ ဒီပဲရင်းဝန်ထောက်ဦးမြလမ်း၊ အမှတ်(၂၂)တွင် အလူဇင့်ရောင်စုံ အမိုးသွပ်ပြားနှင့် စီနှင့်ဇက် များတန်းထုတ်လုပ်ခြင်းလုပ်ငန်း လုပ်ကိုင်နိုင်ရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

သို့ပါ၍ ကျွန်မတို့ကုမ္ပဏီ၏ အဆိုပြုလွှာ(၂)စုံကို လိုအပ်သလိုစီစစ်ပေးနိုင်ပါရန် ပေးပို့တင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

THAW DAR ZIN
MANAGING DIRECTOR
EVA STEEL CO., LTD.

**EVA STEEL CO., LTD.**
NO. 22, DE PAE YIN WUN HTAUK U MYAE ROAD, HLAING THAR YAR INDUSTRY ZONE (3)
HLAING THAR YAR TOWNSHIP, YANGON, MYANMAR.
TEL: 01-685133, 685015, 685614, 685615 FAX: 01-685128 EMAIL: evasteelcompany@gmail.com

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ ။ ။၂၀၁၅ ခုနှစ်၊ ဇွန်လ (၉)ရက်။

အကြောင်းအရာ။ ။ **မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ လုပ်ငန်းဆောင်ရွက်ခြင်းနှင့် ပတ်သက်၍ ကတိဝန်ခံချက် ပေးပို့ခြင်း။**

အထက်အကြောင်းအရာပါကိစ္စနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံကုမ္ပဏီများအက်ဥပဒေအရ တရားဝင်ဖွဲ့စည်းတည်ထောင်သည့် **"EVA STEEL CO., LTD."** သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ရန်ကုန်တိုင်းဒေသကြီး၊ စက်မှုဇုံ(၃)၊ လှိုင်သာယာမြို့နယ်၊ ဒီပဲရင်းဝန်ထောက်ဦးမြလမ်း၊ အမှတ်(၂၂)တွင် အလူဇင့်ရောင်စုံ အမိုးသွပ်ပြားနှင့် စီနှင့်ဇက် မျှားတန်းထုတ်လုပ်ခြင်းလုပ်ငန်းကို နောက်ဆုံးပေါ်စက်ကိရိယာများဖြင့် တည်ဆောက်လုပ်ကိုင်ခွင့် ရရှိနိုင်ရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ခွင့်ပြုမိန့်ကို လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။ ထိုသို့လျှောက်ထားရာတွင် ခွင့်ပြုမိန့်ရရှိရန်အတွက် အောက်ပါတို့ကို ဝန်ခံကတိပြုပါသည်။

(က) ဤလုပ်ငန်းသည် မြန်မာနိုင်ငံသားများသာလျှင် ပိုင်ဆိုင်သောလုပ်ငန်းဖြစ်ပါသည်။ ဤလုပ်ငန်းတွင် နိုင်ငံခြားမှ မစည်သူမျှ ပိုင်ဆိုင်မှုမရှိပါကြောင်း ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

(ခ) ဤလုပ်ငန်းသည် လုပ်ငန်းအသစ်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(ဂ) ဤလုပ်ငန်းမှ ထွက်ရှိလာသော ကုန်ချောပစ္စည်းများကို ပြည်တွင်း၌ရောင်းချရန် ဈေးကွက်ရှိပြီးဖြစ်ပါသည်။

(ဃ) စက်မှုလုပ်ငန်းဥပဒေအရ ပြည်နယ်/တိုင်းဒေသန္တရ စက်မှုကြီးကြပ်ရေးနှင့် လုပ်ငန်းစစ်ဆေးရေး ဦးစီးဌာနမှ ပြဋ္ဌာန်းထားသော စည်းကမ်းဥပဒေများအတိုင်း လိုက်နာဆောင်ရွက်သွားမည်ဖြစ်ပါသည်။

(င) နိုင်ငံတော် အစိုးရမှ မြေယာနှင့်ပက်သက်၍ သတ်မှတ်ပြဋ္ဌာန်းသည့် စည်းကမ်းသတ်မှတ်ချက်များကို လိုက်နာဆောင်ရွက်ပါမည်ဟု ကတိပြုပါသည်။

# EVA STEEL CO., LTD.

NO. 22, DE PAE YIN WUN HTAUK U MYAE ROAD, HLAING THAR YAR INDUSTRY ZONE (3)
HLAING THAR YAR TOWNSHIP, YANGON, MYANMAR.
TEL: 01-685133, 685015, 685614, 685615 FAX: 01-685128 EMAIL: evasteelcompany@gmail.com


(စ) ထို့အပြင် ကျွန်မတို့ ကုမ္ပဏီအနေဖြင့် လုပ်ငန်းဆောင်ရွက်ရာတွင်လည်း ပတ်ဝန်းကျင် ညစ်ညမ်းမှု မဖြစ်ပွားစေရန်အတွက် လိုအပ်သော အစီအမံများ၊ မီးဘေးကြိုတင် ကာကွယ်မှုအစီအစဉ်များ ပြုလုပ်ဆောင်ရွက်ထားမည်ဖြစ်ပါကြောင်းနှင့် ပြည်ထောင်စု မြန်မာနိုင်ငံတော်၏ နည်းဥပဒေ၊ စည်းမျဉ်း၊ စည်းကမ်း၊လုပ်ထုံးလုပ်နည်းများနှင့်အညီ ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် အကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဟု ဝန်ခံကတိပြုပါသည်။

(ဆ) **"EVA STEEL CO., LTD."** အနေဖြင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေအရ ပြည်နယ်/တိုင်းဒေသကြီးရ စက်မှုကြီးကြပ်ရေးနှင့် လုပ်ငန်းစစ်ဆေးမှု ညွှန်ကြားရေး ဦးစီးဌာန တို့တွင်မှတ်ပုံတင်ထားရှိမည် ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

လေးစားစွာဖြင့်

[signature]

THAW DAR ZIN
MANAGING DIRECTOR
EVA STEEL CO., LTD.

# မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

# ရင်းနှီးမြှုပ်နှံလိုသူ၏

# အဆိုပြုချက်

ပုံစံ (မနသ–၁)

မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအရ

ရင်းနှီးမြှုပ်နှံလိုသူ၏အဆိုပြုချက်

(ဥပဒေပုဒ်မ–၂ပုဒ်မခွဲ(ဂ) နှင့် ပုဒ်မ ၈)

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်တိုင်းဒေသကြီး။

ရက်စွဲ။ ။၂၀၁၅ ခုနှစ်၊ ဇွန်လ(၉)ရက်။

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း ရင်းနှီးမြှုပ်နှံလိုပါသဖြင့် ခွင့်ပြုမိန့်ထုတ်ပေးပါရန် အောက်ပါအချက်များကိုဖော်ပြ၍ လျှောက်ထားအပ်ပါသည်။

၁။ ရင်းနှီးမြှုပ်နှံလိုသူ၏

(က) အမည် – ဒေါ်လင်ပေါခင်(ခ)ဒေါ်သန်းသန်းအေး(ခ)ဒေါ်သော်တာဇင်

(ခ) အဖအမည် – လင်ဂျင်ကင်း(ခ)ဦးအီကွမ်း

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ်– ၁၃/တကန (နိုင်) ၀၆၇၉၈၁

(ဃ) နေရပ်လိပ်စာ – အမှတ်(၅၈) ၊ ကလောလမ်း၊ ၁၄–ရပ်ကွက်၊ လှိုင်မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) လူမျိုး/ဘာသာ – တရုတ်–ဗမာ /ဗုဒ္ဓဘာသာ

(စ) အဖွဲ့အစည်းအမည် – **EVA STEEL CO., LTD..**

(ဆ) လုပ်ငန်းအမျိုးအစား – အလူဇင့်ရောင်စုံ အမိုးသွပ်ပြားနှင့် စီနှင့်ဇက် မျှားတန်း ထုတ်လုပ်ခြင်းလုပ်ငန်း

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် – အမှတ်(၂၂)၊ ဒီပဲရင်း၀န်ထောက်ဦးမြလမ်း၊ စက်မှုဇုန်(၃)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

၂။ ဖက်စပ်ပြုလုပ်၍ရင်းနှီးမြှုပ်နှံလိုပါက ဖက်စပ်ပြုလုပ်မည့်သူများ၏

(က) အမည် –

(ခ) အဖအမည် –

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် –

(ဃ) နေရပ်လိပ်စာ –

(င) လူမျိုး/ဘာသာ –

(စ) အဖွဲ့အစည်းအမည် –

(ဆ) လုပ်ငန်းအမျိုးအစား –

(ဇ) အဖွဲ့အစည်းတည်ရှိရာအရပ် –

၃။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့် လုပ်ငန်းအမျိုးအစား

(က) ကုန်ထုတ်လုပ်မှုလုပ်ငန်း – အလူဇင့်ရောင်စုံ အမိုးသွပ်ပြားနှင့် စီနှင့်ဇက် မျှားတန်း ထုတ်လုပ်ခြင်းလုပ်ငန်း

(ခ) ဆောက်လုပ်ရေးလုပ်ငန်း – –

၄။ လုပ်ကိုင်မည့်စီးပွားရေးပုံစံ

(က) နိုင်ငံသားနှင့်နိုင်ငံသားတို့က အစုစပ်လုပ်ကိုင်ဆောင်ရွက်ခြင်း –

(ခ) အဖွဲ့အစည်းနှင့်နိုင်ငံသားတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း –

(ဂ) အဖွဲ့အစည်းနှင့်အခြားအဖွဲ့အစည်းတို့က ဖက်စပ်လုပ်ကိုင်ဆောင်ရွက်ခြင်း –

၅။ ဖွဲ့စည်းထားပြီးဖြစ်သည့် သို့မဟုတ် ဖွဲ့စည်းမည့်စီးပွားရေးပုံသဏ္ဌာန်–

(က) တစ်ဦးတည်းပိုင် –

(ခ) ဖက်စပ်/အစုစပ်လုပ်ငန်း –

(ဂ) လီမိတက်ကုမ္ပဏီ – **EVA STEEL CO., LTD.**

(ဃ) သမဝါယမအသင်း –

၆။ ဖက်စပ် / အစုစပ်လုပ်ငန်းဖြစ်ပါက –

(က) အစုစပ်တို့က ထည့်ဝင်မည့်အစုငွေအချိုးအစားနှင့်ပမာဏ–

(ခ) အကျိုးအမြတ်ခွဲဝေမည့်အချိုးအစား –

(ဂ) အစုဝင်များ၏တာဝန်နှင့် လုပ်ပိုင်ခွင့်များ –

၇။ သမဝါယမအသင်း/ လီမိတက်ကုမ္ပဏီဖြစ်ပါက

(က) ခွင့်ပြုမတည်ငွေရင်း(ကျပ်) – ၁,၀၀၀,၀၀၀,၀၀၀/–

(ခ) အစုရှယ်ယာအမျိုးအစား – ၁၀၀,၀၀၀/–တန်အစုရှယ်ယာ(၁၀၀၀၀)စု

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့် အစုရှယ်ယာပမာဏ – ၈၀,၀၀၀,၀၀၀/–

**(မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ရရှိပြီးပါက ခွင့်ပြုမတည်ငွေရင်းအား တိုးမြှင့်မည်ဖြစ်ပါသည်။)**

၈။ ရင်းနှီးမြှုပ်နှံမှု ပြုလုပ်လိုသည့်အဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ –

| | အမေရိကန်ဒေါ်လာ | ကျပ် | စုစုပေါင်း |
|---|---|---|---|
| (က) မတည်ငွေရင်းပမာဏ (ကျပ်) | | | (၀၀၀) |
| (၁) ငွေပမာဏ | – – | ၁၇၉,၄၅၀.၀၀ | ၁၇၉,၄၅၀.၀၀ |
| (၂) စက်ပစ္စည်းများ (ပြည်ပ) | – ၁,၄၄၄,၀၀၀.၀၀ | – | ၁,၄၄၄,၀၀၀.၀၀ |
| စက်ပစ္စည်းများ (ပြည်တွင်း) | – – | – | – |
| (၃) အဆောက်အဦများ | – – | – | – |
| မြေ | – – | – | – |
| (၄) ပရိဘောဂနှင့်လုပ်ငန်းသုံးပစ္စည်းများ | – – | ၁၈,၇၀၀.၀၀ | ၁၈,၇၀၀.၀၀ |
| (၅) ကုန်ကြမ်းပစ္စည်းများ (ပြည်ပ) | – ၁,၅၅၇,၈၅၀.၀၀ | – | ၁,၅၅၇,၈၅၀.၀၀ |
| ကုန်ကြမ်းပစ္စည်း (ပြည်တွင်း) | – – | – | – |
| စုစုပေါင်း | – ၃,၀၀၁,၈၅၀.၀၀ | ၁၉၈,၁၅၀.၀၀ | ၃,၂၀၀,၀၀၀.၀၀ |

(ခ) နိုင်ငံခြားမှတင်သွင်းရန်လိုအပ်သည့်

| | အမေရိကန်ဒေါ်လာ | ကျပ် |
|---|---|---|
| (၁) စက်ပစ္စည်းများ၊ စက်ကိရိယာများ၏တန်ဖိုးပမာဏ | ၁,၄၄၄,၀၀၀.၀၀ | ၁,၄၄၄,၀၀၀.၀၀ |
| (၂) ကုန်ကြမ်းပစ္စည်းများနှင့်အခြားအလားတူပစ္စည်းများ၏တန်ဖိုး | ၁,၅၅၇,၈၅၀.၀၀ | ၁,၅၅၇,၈၅၀.၀၀ |

(၃) ကျွမ်းကျင်မှုနည်းပညာရပ်များ၏တန်ဖိုးပမာဏ

(ဂ) တည်ဆောက်မှုကာလ – (၁)နှစ် (၆)လ

(ဃ) ပဏာမစူးစမ်းလေ့လာမှုပြုလုပ်မည့်ကာလ – (၆)လ

(င) တည်ဆောက်မှုစတင်မည့်အချိန် – မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ရရှိသည့်အချိန်မှ စတင်၍ဆောင်ရွက်ပါမည်။

၉။ ဆောင်ရွက်မည့်စီးပွားရေးလုပ်ငန်းနှင့်သက်ဆိုင်သောအချက်အလက်များ

(က) လုပ်ငန်းအမျိုးအစား – အလူဇင့်ရောင်စုံ အမိုးသွပ်ပြားနှင့် စီနှင့်ဇက်များတန်း ထုတ်လုပ်ခြင်းလုပ်ငန်း

(ခ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသများ – အမှတ်(၂၂)၊ ဒီပဲရင်းဝန်ထောက်ဦးမြလမ်း၊ စက်မှုဇုန်(၃)၊ လှိုင်သာယာမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(ဂ) ဆောင်ရွက်ပုံနည်းစနစ် – ခေတ်မီစက်ပစ္စည်းများဖြင့် အလူဇင့်ရောင်စုံ အမိုးသွပ်ပြားနှင့် စီနှင့်ဇက်များတန်း ထုတ်လုပ်ခြင်းလုပ်ငန်း

(ဃ) နှစ်စဉ်စက်သုံးဆီလိုအပ်ချက် –

| အမျိုးအစား | အရေအတွက် |
|---|---|
| ၁။ ဒီဇယ်ဆီ | ၂၀၀၀၀ ဂါလံ |
| ၂။ ဓါတ်ဆီ | ၁၅၀၀၀ ဂါလံ |
| ၃။ စက်ဆီ၊ ချောဆီ | ၇၀၀ ဂါလံ |

(င) နှစ်စဉ်လျှပ်စစ်ဓာတ်အားလိုအပ်ချက်–

| အားအသုံးပြုမှု | မြင်းကောင်ရေ |
|---|---|
| ၁။ လျှပ်စစ်ဓာတ်အား | တစ်နှစ်လျှင် ၁၅၀၀၀၀ ကီလိုဝပ် |
| ၂။ ဓာတ်ဆီ၊ဒီဇယ်ဆီအင်ဂျင်စက်အင်အား | တစ်နှစ်လျှင် ၃၀၀၀ ကီလိုဝပ် |
| ၃။ ဘွိုင်လာအသုံးပြုအင်ဂျင်စက်အား | ------------------- |
| ၄။ သဘာဝဓာတ်ငွေ့သုံးစက်အား | ------------------- |
| ၅။ ပေးပို့သည့်အခြားအား (ရေအားလေအားစသည်များ) | ------------------- |

